ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/၇၂၀/၉၅(၁၀၀၉)၊
ရက်စွဲ၊ ၁၉၉၅ ခုနှစ်၊ အောက်တိုဘာလ ၁၁ ရက်။

## အမှာစာ

အကြောင်းအရာ။ ။ မော်လမြိုင်ဟိုးလ်ဒင်းစ်လီမိတက်တည်ထောင်၍ ငါး၊ ပုစွန်၊ ရေချိုနှင့်ပင်လယ်ထွက်ပစ္စည်းများဝယ်ယူထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန်ကိစ္စ။

၁။ မြန်မာနိုင်ငံမှ မော်လမြိုင်ဟိုးလ်ဒင်းစ်လီမိတက်သည် မွန်ပြည်နယ် မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့ပိုင် မြေနေရာကိုငှားရမ်း၍ ရေချို၊ ရေငန်ပုစွန်ပြုပြင်ထုတ်လုပ်သောစက်ရုံတည်ထောင်ပြီး၊ ကမ္ဘာ့ဈေးကွက်အဆင့် အတန်းဝင်ငါး၊ ပုစွန်များဝယ်ယူထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃-၆-၉၅) နေ့တွင်ကျင်းပ ပြုလုပ်သည့် (၇/၉၅) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ရာ စည်ပင်သာယာအဆောက်အဦများငှားရမ်းမှုအတွက် လူနေရပ်ကွက်နှင့်နီးခြင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ခြင်းအစရှိသည်များကို သက်ဆိုင်ရာဌာနအဖွဲ့အစည်းများ၏သဘောထားရယူပြီး၊ ကော်မရှင်သို့ပြန်လည်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနနှင့်နယ်စပ်ဒေသနှင့်တိုင်းရင်းသားလူမျိုးများဖွံ့ဖြိုးတိုးတက်ရေးနှင့်စည်ပင်သာယာရေးဝန်ကြီးဌာနတို့သဘောထား မှတ်ချက်များတောင်းခံခဲ့ရာ စက်ရုံနေရာမှာ လူနေရပ်ကွက်အတွင်းမတည်ရှိဘဲ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်စီစဉ်ဆောင်ရွက်ပြီးဖြစ်ခြင်းတို့ကြောင့် ကန့်ကွက်ရန်မရှိကြောင်း ဝန်ကြီးဌာနနှစ်ခုလုံးမှပြန်ကြားလာသဖြင့် ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ မြေငှားသဘောတူစာချုပ် (မူကြမ်း)၊ ရှေ့နေချုပ်ရုံး၏သဘောတူမှတ်ချက်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများကို နောက်ဆက်တွဲ (၁) တွင်တင်ပြထားပါသည်။

၂။ ဤလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၂၃ သန်းအပါအဝင် ကျပ် ၁၃.၈၈ သန်းဖြစ်ပါသည်။ ယင်းအနက် ငွေသား ကျပ် ၉.၅၀ သန်း၊ အဆောက်အဦ အတွက်ကျပ် ၃.၀၀ သန်း၊ စက်ပစ္စည်းကိရိယာများအတွက်ကျပ် ၁.၃၈ သန်း (အမေရိကန်ဒေါ်လာ ၀.၂၃ သန်း) ပါဝင်မည်ဖြစ်ပါသည်။ ငွေသား ကျပ် ၉.၅၀ သန်းတွင် မြေအသုံးချမှုအတွက် ပေးငွေကျပ် ၂.၅ သန်း ပါဝင်မည်ဖြစ်ပါသည်။ စက်ပစ္စည်းများကို စင်္ကာပူနိုင်ငံ PL International Pte.Ltd. မှ သွင်းကုန်ပထမစနစ်အရ တင်သွင်းမည်ဖြစ်ပြီး၊ စက်စတင်လည်ပတ်ချိန်မှ ၂ နှစ်အတွင်း လုပ်ငန်းမှရရှိသည့် ငါး၊ ပုစွန်တန်ဖိုးဖြင့် ပြန်လည်ပေးဆပ်မည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်း ဆောင်ရွက်ရန်အတွက် မော်လမြိုင်မြို့နယ်၊ သံလွင်လမ်းရှိ မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့ပိုင် မြေ ၇၀ × ၁၀၅ ပေ (၇၃၅၀ စတုရန်းပေ/ ၆၈၇ စတုရန်းမီတာ) နှင့် မြေပေါ်ရှိ ဈေးဆိုင်တန်းလျား အဆောက်အဦ ၄ လုံးကို နှစ် ၃၀ ငှားရမ်း၍ အသုံးပြုမည်ဖြစ်ပါသည်။ ယင်းအဆောက်အဦ ၄ လုံးကိုဖြိုဖျက်၍ လုပ်ငန်းအတွက် စုစုပေါင်းဧရိယာ ၃၁၄၅ စတုရန်းပေ (၂၉၂.၂၉ စတုရန်းမီတာ) ရှိသည့်အဆောက်အဦ ၇ လုံးကို အသစ်တည်ဆောက်မည်ဖြစ်ရာ ယင်းအတွက်ကုန်ကျငွေကျပ် ၃ သန်းကို မတည်ငွေရင်းအဖြစ် ထည့်ဝင်ထားပါသည်။ မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့သို့ မြေအသုံးချခွင့်အတွက် ပေးငွေကျပ် ၂.၅၀ သန်း ပေးရမည်ဖြစ်ပြီး၊ ယင်းငွေကိုလည်း မတည်ငွေရင်းအဖြစ် ထည့်ဝင်ထားပါသည်။

၄။ မြေငှားရမ်းခအနေဖြင့် လစဉ်ကျပ် ၁၀၀၀၀ သတ်မှတ်ထားသဖြင့် တစ်နှစ်လျှင်ကျပ် ၀.၁၂ သန်း ပေးရမည်ဖြစ်ရာ မြေငှားရမ်းခနှုန်းမှာ တစ်နှစ်လျှင် တစ်စတုရန်းမီတာလျှင်ကျပ် ၁၇၄.၆၇ ခန့်ကျမည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။ မြေငှားရမ်းခများကို ၅ နှစ်လျှင်တစ်ကြိမ် ၁၀ % ထက်မပိုစေဘဲ တိုးမြှင့်ခြင်း ပြုလုပ်ရန်၊ ပြန်လည်ညှိနှိုင်းမည်ဖြစ်ကြောင်းနှင့် ငှားရမ်းကာလကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်ရန် မြေငှားစာချုပ်အပိုဒ် (၃-၁) နှင့် (၄-၁) တွင်ဖော်ပြထားပါသည်။

၅။ ဤလုပ်ငန်းမှ ထုတ်လုပ်မည့်ငါး၊ ပုစွန်များကို ရာခိုင်နှုန်းပြည့် နိုင်ငံခြားသို့တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်ထုတ်လုပ်သည့်နှစ်တွင် ငါး၊

ပုစွန်များထုတ်လုပ်မှုရောင်းဈေးနှုန်းနှင့်တန်ဖိုးများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| အမှတ်စဉ် | အမျိုးအမည် | ထုတ်လုပ်မှု မက်ထရစ်တန် | မက်ထရစ်တစ်တန် ရောင်းဈေး(US $) | တန်ဖိုး အမေရိကန်ဒေါ်လာ(၀၀၀) |
|---|---|---|---|---|
| ၁ | ငါး၊ ပုစွန် | ၁၀၀၀ | ၈၄၀၀ | ၈၄၀၀ |
| ၂ | Fish - Fillet | ၃၀၀ | ၄၄၀၀ | ၁၃၂၀ |
| ၃ | Whole Fish | ၇၀၀ | ၂၉၀၀ | ၂၀၃၀ |

၆။ ၎င်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့်တစ်နှစ်ပျမ်းမျှရရှိမည့်ဝင်ငွေနှင့်အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ ၎င်းလုပ်ငန်းမှာ ကျပ်ငွေပိုင်းတွင်နှစ်စဉ်အရှုံးပေါ်နေသဖြင့်ထိုအရှုံးကိုကာမိစေရန်ကုန်သွယ်မှု လုပ်ငန်းကိုဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | — | ၆၉.၃၀ | ၆၉.၃၀ |
| (ခ) အသုံးစရိတ် | ၁၁၄၇.၆၃ | ၁၀.၃၉ | ၁၁၅၈.၀၂ |
| (ဂ) အမြတ်/အရှုံး | (-) ၁၁၄၇.၆၃ | ၅၈.၉၁ | (-) ၁၀၈၈.၇၂ |
| (ဃ) ကုန်သွယ်မှုလုပ်ငန်းမှအသားတင်အရှုံး/အမြတ် | ၁၁၈၂.၃၄ | (-) ၅၆.၄၀ | ၁၁၂၅.၉၄ |
| (င) အသားတင်အမြတ် | ၃၄.၇၁ | ၂.၅၁ | ၃၇.၂၂ |

၇။ ၎င်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှနှစ်စဉ် ရရှိမည့်အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | |
|---|---|
| (က) ကုန်သွယ်လုပ်ငန်းခွန် | ၃.၄၆ |
| (ခ) မော်လမြိုင်မြို့နယ်စည်ပင်သာယာရေး ကော်မတီမှ မြေငှားရမ်းခရငွေ | ၀.၁၂ |
| (ဂ) ပရိဗိယံကြေး | ၂.၅၀ |

၈။ ဤလုပ်ငန်းမှာ မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး ၊ နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင် မှုမရှိကြောင်း ကတိခံဝန် ချုပ်ပေးထားပါသည်။

၉။ ဤလုပ်ငန်းကို ပြည်တွင်းမှ ဝန်ထမ်း (၅၀) ဦး နှင့်နိုင်ငံခြား မှ အတတ်ပညာရှင် တစ်ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၀။ မေဘော်လမြိုင်ဟိုး လိဒင်းစ်လီမိတက်ကို ၁၁-၈-၉၄ နေ့တွင်ကုမ္ပဏီ မှတ်ပုံတင်ထားပြီး ၊ ငွေရေးကြေးရေး ဆိုင်ရာ အထောက်အထား အဖြစ် မြန်မာ့စီးပွားရေး ဘဏ်တွင် ၃၀-၉-၉၄ နေ့တွင် ငွေကျပ် ၆ သန်း ကျော်ရှိကြောင်း ၊ ဘဏ်ရှင်းတမ်းကို တင်ပြထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၁၂) နှင့် (၁၃) ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစား ခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ (၁၂) အရ စီးပွားရေး လုပ်ငန်း စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေ ခွန် ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ (၁၃) တွင် ဖော်ပြထားသည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို တောင်း ခံထားရာ အောက်ပါအတိုင်း သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင် သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်

သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ခ) အရလုပ်ငန်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေပေါ်တွင် ၅၀ % ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက် ပထမ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးသည့်နောက် ကော်မရှင်သို့ လျှောက်ထားသည့်အခါခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့်၊ ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါကသတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကိုလုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဃ) အရလုပ်ငန်းမှရရှိသည့်အမြတ်ငွေကိုတစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါကထိုအမြတ်ငွေပေါ်တွင်ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့) သက်သာခွင့်ကိုအမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အခါ လျှောက်ထားလာပါကခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဆ) အရလုပ်ငန်းသုံး မဟာပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုးပြည့်မီသည်အထိအမြတ်ငွေမှနှုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှသတ်မှတ်သည့်နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ အတွင်း တင်သွင်းလာသည့်စက်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင်အကောက်ခွန်နှင့်အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦး ရင်းနှီး မြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက်ကုန်ထုတ်လုပ်ရန်တင်သွင်းသည့် ကုန်ကြမ်း များ ၊ လုပ်ငန်း သုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့်အခြား ပြည်တွင်း အခွန်အကောက်များ ကင်း လွတ်ခွင့်ကိုခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ည) အရထုတ်လုပ်သည့်ပစ္စည်း များ ပြည်ပသို့ တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်း ခွန်ကင်း လွတ်ခွင့်ကိုခွင့်ပြုသင့်ပါသည်။

၁၂။ <u>ဆုံး ဖြတ်ရန်အချက်</u>

(က) မော်လမြိုင်ဟိုးလ်ဒင်း(ဂ်) လိမိတက်တည် ထောင်၍ ငါး၊ ပုစွန်၊ ရေချိုနှင့်ပင်လယ်ထွက်ပစ္စည်းများဝယ်ယူထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူ - မတူ။

(ခ) သဘောတူပါကအထက်အပိုဒ် (၁၁) ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များခံစား ခွင့်ပြုရန်သဘောတူ - မတူ။

(ခိုင်ခိုင်)
တွဲဖက်အတွင်း ရေးမှူး

<u>မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်။</u>



မ၁ * ၁၀/၁၀/၉၅။

ပုံစံ(မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၁၃၄/၉၆ ၁၉၉၆ ခုနှစ်၊ မတ်လ ၆ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး [illegible] ဇော်ဝင်း

(ခ) အဘအမည် ဦး ဇော်မြင့်သိန်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ယု/အဘဂရီအနိုင်-၀၀၁၅၈၈

(ဃ) နေရပ်လိပ်စာ အမှတ်(၁၉)၊ မေခလမ်း

မရမ်းကုန်းမြို့နယ်၊ ရန်ကုန်။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း

မော်လမြိုင်ဟိုး (လ်) ဒင်း (စ်) လီမိတက်

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ငါး၊ ပုဇွန်၊ ရေညှိနှင့်

ပင်လယ်ထွက်ပစ္စည်းများ ဝယ်ယူထုတ်လုပ်ခြင်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) သံလွင်ဈေး၊ သံလွင်ဥယျာဉ်လမ်း

မော်လမြိုင်မြို့နယ်

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၁၃.၈၈ သန်း (ကျပ်တစ်ဆယ့်သုံးသန်းရှစ်သိန်းရှစ်သောင်းတိတိ)

(signature)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာ အမှတ်၊ ၁ / ၉၆

ရန်ကုန်မြို့၊ ၁၃၅၇ ခုနှစ်၊ တပေါင်းလပြည့်ကျော် ၃ ရက်၊

( ၁၉၉၆ ခုနှစ် ၊ မတ်လ ၆ ရက် )

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၅)၊ ပုဒ်မ-၁၀အရ အပ်နှင်းထားသောလုပ်ပိုင်ခွင့်များကိုကျင့်သုံးလျက် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့ပိုင်မြေနေရာကိုငှားရမ်း၍ ရေချို၊ ရေငန်ပုစွန်ပြုပြင်ထုတ်လုပ်သည့်စက်ရုံတည်ထောင်ပြီး၊ ကမ္ဘာ့ဈေးကွက်အဆင့်အတန်းဝင်ငါး၊ ပုစွန်များ ဝယ်ယူထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် မော်လမြိုင် ဟိုး (လ်) ဒင်း (စ်) လီမိတက်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၁၀/၉၆ ကိုထုတ်ပေးလိုက်သည်။

၂။ မော်လမြိုင်ဟိုး (လ်) ဒင်း (စ်) လီမိတက်အနေဖြင့် ၎င်းခွင့်ပြုမိန့်အရ ကမ္ဘာ့ဈေးကွက်အဆင့်အတန်းဝင်ငါး၊ ပုစွန်များ ဝယ်ယူထုတ်လုပ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၇)၊ ပုဒ်မ-၁၂အရ၊ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ-၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် ဤအမိန့်ကြော်ငြာစာကိုထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ-၁၃(က)အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သောနိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကိုဖော်ပြလျက် ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ-၁၃(ခ)အရ လုပ်ငန်းမှနိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်း ဝင်ငွေခွန်သက်သာခွင့်ကိုခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ-၁၃(ဂ)အရ ကုန်ထုတ်လုပ်မှုကြောင့်ပြည်တွင်းပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီဝင်ငွေခွန် သက်သာခွင့်ကိုလုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကိုဖော်ပြလျက်၍ ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ-၁၃(စ)အရ လုပ်ငန်းမှရရှိသည့်အမြတ်ငွေကိုသီးသန့်ရန်ပုံငွေထား၍တစ်နှစ်အတွင်း လုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင်ထိုအမြတ်ငွေအပေါ်တွင်ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ်သက်သာခွင့်ကိုဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအမှန်တကယ်အကောင်အထည်ဖော်မှုအခြေအနေကိုဖော်ပြလျက်ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ-၁၃(ဆ)အရ လုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ်တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်းနှစ်တိုက်ကိုနှင့်မူလတန်ဖိုးပြည့်မီသည့်အထိ အမြတ်ငွေမှနှုတ်ပယ်ခွင့်ကိုကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ-၁၃(ဇ)အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်းပြည်တွင်း၌ မရရှိနိုင်သည့်အမှန်တကယ်လိုအပ်၍ ပြည်ပမှတင်သွင်းသောစက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကင်းလွတ်ခွင့်အတွက်ခွင့်ပြုမိန့်ရရှိပြီးသည့်နောက်မှတင်သွင်းသည့်လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်သာကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ-၁၃(ဈ)အရ ကနဦးရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက်ကုန်ထုတ်လုပ်ရန်တင်သွင်းသည့်ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကိုကင်းလွတ်ခွင့်ပြုသည်။

(ဇ) ဥပဒေပုဒ်မ-၁၃(ည)အရ ထုတ်လုပ်သည့်ပစ္စည်းများ ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ်ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေပုဒ်မ-၁၃(ဇ)အရ ပြည်ပမှတင်သွင်း သည့်စက်ပစ္စည်း များ နှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) နိုင်ငံခြား ငွေရရှိပုံနည်း လမ်း ( Source Payments for Imports )ဥပမာ-ပြည်ပတင်ပို့မှုမှဝင်ငွေ၊ ဆောင်ရွက်ပေးမှုရရှိသည့်ဝင်ငွေ၊ ပြည်ပချေးငွေ( Loan and Credits ) ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စနစ်( Buy-backs )ကိုဖော်ပြရန်။

(ခ) တင်သွင်း မည့်ပစ္စည်း အမျိုး အစား စာရင်း ( Invoice and Packing List )များ ကိုနိုင်ငံခြား မတည် ငွေရင်း တန်ဖိုး သတ်မှတ် ရေး ကော်မတီသို့တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မော်လမြိုင်မြို့နယ်၊ သံလွင်လမ်း ရှိ မော်လမြိုင်မြို့နယ်စည်ပင်သာယာရေး အဖွဲ့ပိုင် မြေ(ဖ၀ရ) တော့ရန်း မီတာ နှင့် မြေပေါ်ရှိ ဈေး ဆိုင်ခန်း များ အ ဆောက်အဦ(၄)လုံးအားကနဦးနှစ်၂၀နှင့် နောက်ထပ်၅နှစ်၂ကြိမ် ငှား ရမ်း မှုကာလကို မြေငှား သဘောတူစာချုပ်လက်မှတ် ရေး ထိုး သောနေ့မှစတင်ရန်ဖြစ်သည်။ မြေအသုံး ချခွင့်အတွက် ပေး ချေငွေ ( Land Use Premium )အဖြစ်ကျပ် ၂၅၈၈၀၀၀(ကျပ်နှစ်ဆယ့်ငါး သိန်း တိတိ) ကို မြေငှား စာချုပ်လက်မှတ် ရေး ထိုး ပြီး (၃၀) ရက်အတွင်း အငှား ချထား ခြင်း ခံရသူကအငှား ချထား သူအား ပေး ချေရမည်။ လစဉ်ငှား ရမ်း ခအဖြစ်ကျပ် ၁၀၀၀၀ (ကျပ်တစ် သောင်း တိတိ)ကိုအငှား ချထား သူမှ တောင်းခံ နေရန်မလိုဘဲအငှား ချထား ခြင်း ခံရသူက လစဉ်လဆန်း (၇) ရက် နေ့မကျော်မီ ပေး ဆောင်ရမည်။ မြေငှား ရမ်း ခမှာ ပထမငါး နှစ်ကာလအတွက် မြန်မာကျပ်ငွေ ၆၀၀၀၀၀(ကျပ် ငွေခြောက် သိန်း တိတိ)ဖြစ်သည်။

၅။ အငှား ချထား သူနှင့်အငှား ချထား ခြင်း ခံရသူတို့သည် အငှား ချထား သော မြေ နေရာနှင့်အဆောက်အဦများ အတွက်စာချုပ် စတင်အတည်ဖြစ်သည့် နေ့မှစ၍ (၅) နှစ်လျှင်တစ်ကြိမ်ငှား ရမ်း ခနှုန်း ထား များ ကိုပြီး ခဲ့သော(၅)နှစ် တာကာလ၏ငှား ရမ်း ခနှုန်း များ ထက် ၁၅ ရာခိုင်နှုန်း ထက်မပိုစေဘဲတိုး မြှင့်ခြင်း ကိုပြုလုပ်ရန်အတွက်ပြန်လည်သုံးသပ်ခြင်း ပြင်ဆင်သုံး သပ်ပိုင်ခွင့်ရှိသည်။

၆။ အဆိုပါမြေငှားသဘောတူစာချုပ်ကိုလက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ်မိတ္တူ (၅) စောင်ကို ကော်မရှင်သို့မပျက်မကွက်အမြန်တင်ပြရမည်။

၇။ ထိုသို့မြေငှားရမ်းခြင်းနှင့်ပတ်သက်၍အငှားချထားသူနှင့် အငှားချထားခြင်းခံရသူနှစ်ဦးနှစ်ဖက်စလုံးတို့သည်နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကိုတိကျစွာလိုက်နာဆောင်ရွက်ရမည်။

၈။ မော်လမြိုင်တိုး (လ) ခင်း (စ) လိမိတက်မှ နိုင်ငံခြားသားကျွမ်းကျင်သူများငှားရမ်းခွင့်ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများအခန်း (၉)၊ အပိုဒ် - ၃၃ သတ်မှတ်ချက်များနှင့်အညီ ကော်မရှင်သို့သီးခြားတင်ပြလျှောက်ထားရမည်။

၉။ မော်လမြိုင်တိုး (လ) ခင်း (စ) လိမိတက်သည်၎င်းခွင့်ပြုမိန့်အရလုပ်ငန်းဆောင်ရွက်ရာ၌ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှုစသည်များမဖြစ်ပေါ်စေရန်အတွက်လိုအပ်သည့်ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ရေးအစီအမံများကိုစနစ်တကျထား၍ ဆောင်ရွက်ရမည်။

၁၀။ အဆိုပြုလုပ်ငန်းစတင်ဆောင်ရွက်သည့်နေ့ကို ၎င်းကော်မရှင်သို့ အစီရင်ခံရမည်။

အမိန့်အရ-

[ ဗိုလ်မှူးချုပ် အေဘယ်လ် ]
အတွင်းရေးမှူး
[ ဝန်ကြီး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုး
တိုးတက်မှုဝန်ကြီးဌာန ]

စာအမှတ်၊ ၇က - ၁/ မ - ၀၀၆/ ၉၅ (၂၀၀၇)။
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ မတ်လ ၆ ရက်။

ဖြန့်ဝေခြင်း -

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး ။

၃။ အစိုးရအဖွဲ့ရုံး ။

၄။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

၅။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။

၆။ ကုန်သွယ်ရေးဝန်ကြီးဌာန။

၇။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန။

၈။ နယ်စပ်ဒေသနှင့်တိုင်းရင်းသားလူမျိုးများဖွံ့ဖြိုးတိုးတက်ရေးနှင့် စည်ပင်သာယာရေးဝန်ကြီးဌာန။

၉။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်။

၁၀။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသက်မှတ်ရေးအဖွဲ့ငယ်၊ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းဝယ်ရင်းအင်းနှင့်စစ်ဆေးရေးဦးစီးဌာန)

၁၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန။

၁၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။

၁၃။ ဦးဆောင်ညွှန်ကြားရေးမှူး ၊ မြန်မာ့အာမခံလုပ်ငန်း ။

၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။

၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန။

၁၆။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်း ။

၁၇။ ညွှန်ကြားရေးမှူး ၊ ကုမ္ပဏီများညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန။

၁၈။ ဥက္ကဋ္ဌ၊ မွန်ပြည်နယ်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့။

၁၉။ မြို့နယ်ဦးစီးမှူး ၊ မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့။

၂၀။ မော်လမြိုင်ဟိုး(လ်)ဒင်း(ဂ်)လိမိတက်၊ အမှတ်(၂၁၂)၊ အောက်လမ်းမကြီး ၊ ရွှေတောင်ရပ်ကွက်၊ မော်လမြိုင်မြို့။

အမိန့်အရ—

( ခိုင်ခိုင် )

ကွဲဖက်အတွင်းရေးမှူး ။



* ၅၄/ ၃/ ၉၆။

ကက်ဘိနက်
Cabinet
27/10/95

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# မော်လမြိုင်ဟိုး(လ်)ဒင်း(စ်)လီမိတက်

**********

# PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR

## MAWLAMYAING HOLDINGS LIMITED

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ ။ ။၁၉၉၅ခုနှစ်၊အောက်တိုဘာလ( ၉ ) ရက်

**အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိခံဝန်ချက်ပေးပို့ခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ မော်လမြိုင်ဟိုး(လ်)ဒင်း(စ်) လီမိတက် အနေဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် ကမ္ဘာ့ဈေးကွက်ဝင် ငါး၊ ပုဇွန်များ ထုတ်လုပ်ပြီး နိုင်ငံခြားသို့တင်ပို့ရောင်းချရန် နှင့် ပြည်တွင်းတွင်ဖြန့်ဖြူးရောင်းချနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

လျှောက်ထားသူ

ဦးအေးဇော်ဝင်း
ယူ/အာကျီအနှင်-၀၀၁၅၈၈

(ဃ) စီးပွားရေးလုပ်ငန်းသည် သွင်းကုန်အစားထိုးလုပ်ငန်း၊ နိုင်ငံတော်အတွက်အဓိကလိုအပ်သည်ဟု သတ်မှတ်သည့်ကုန်ထုတ်လုပ်မှုလုပ်ငန်း သို့မဟုတ် ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပြီး၊ အကျိုးအမြတ် အနည်းငယ်ဖြင့်ဆောင်ရွက်သည့် စီးပွားရေးလုပ်ငန်းဖြစ်ပါက ဝင်ငွေခွန်သက်သာခွင့်ကိုသတ်မှတ်ချက်နှင့်အညီ သင့်လျော်သောကာလအထိခံစားခွင့်၊

(င) နည်းပညာရပ်များကို အသုံးပြုပြီး၊ အဆင့်မြင့်နည်းပညာရပ်များဖွံ့ဖြိုးတိုးတက်စေရန် ဆောင်ရွက်သောစီးပွားရေးလုပ်ငန်းဖြစ်ပါက ဝင်ငွေခွန်သက်သာခွင့်ကို သတ်မှတ်ချက်နှင့်အညီ သင့်လျော်သောကာလအထိ ခံစားခွင့်၊

(စ) စီးပွားရေးလုပ်ငန်းမှရရှိသည့်အမြတ်ငွေကို ပြန်လည်ရင်းနှီးမြှုပ်နှံရန်သီးသန့်ရန်ပုံငွေထား၍ ၁ နှစ်အတွင်းပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေပေါ်တွင်ဝင်ငွေခွန် ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်၊

(ဆ) ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ စက်ပစ္စည်း၊ စက်ကရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ၏ ပစ္စည်းတန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းထားများအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုးပြည့်မီသည်အထိအမြတ်ငွေမှ နုတ်ပယ်ခွင့်၊

(ဇ) သတ်မှတ်ထားသည့်ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း၊ ပြည်တွင်း၌မရရှိနိုင်သည့် အမှန်တကယ်အသုံးပြုရန်လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကရိယာ၊ စက်ကရိယာအစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးစလုံးဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ဈ) သတ်မှတ်ထားသည့်ကနဦးရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် ကုန်ထုတ်လုပ်ရန် ကော်မရှင်ကတင်သွင်းခွင့်ပြုသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးစလုံးဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ည) ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်ထားသည့်ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ဋ) ကော်မရှင်ကသတ်မှတ်သည့် ဝေးလံခေါင်ပါးဒေသ ဖွံ့ဖြိုးတိုးတက်ရေးကို အဓိကအထောက်အကူပြုသောစီးပွားရေးလုပ်ငန်းဖြစ်ပါက ဝင်ငွေခွန်သက်သာခွင့်ကို သတ်မှတ်ချက်နှင့်အညီ သင့်လျော်သော ကာလအထိခံစားခွင့်၊

၃။ ထို့ပြင်ထုတ်လုပ်မည့်ငါး၊ ပုဇွန်များကို ပြည်တွင်းတွင်နိုင်ငံခြားငွေဖြင့်လည်းကောင်း၊ ပြည်တွင်းကျပ်ငွေဖြင့်လည်းကောင်းရောင်းချရာတွင် ပထမ(၃)နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုရန်အတွက် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါရန် မေတ္တာရပ်ခံတင်ပြအပ်ပါသည်။

၄။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁)ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ ဆောင် ရွက်ရန် အဆိုပြုချက်၊

(၂)လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ

(၃)ကုမ္ပဏီ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းများ

(၄)ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ။

ရိုသေလေးစားစွာဖြင့်

လျှောက်ထားသူ

ဦးအေးဇော်ဝင်း

ယူ/အာကျီအနင်-၀၀၁၅၈၈

ပုံစံ( မနသ-၁ )

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
# ( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ(ဂ) နှင့် ပုဒ်မ ၈ )

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ ၊

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်းရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့်ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏ –

| | |
|---|---|
| (က) အမည် | ဦးအေးဇော်ဝင်း |
| (ခ) အဘအမည် | ဦးဇော်မြင့်သိန်း |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ယူ/အာကျီအန်င်-၀၀၁၅၈၈ |
| (ဃ) နေရပ်လိပ်စာ | အမှတ်(၁၉)၊ မေခလမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်။ |
| (င) လူမျိုး/ဘာသာ | မြန်မာ/ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | မော်လမြိုင်ဟိုး(လ်)ဒင်း(စ်)လီမိတက် |
| (ဆ) လုပ်ငန်းအမျိုးအစား | ငါးပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းနှင့်အထွေထွေရောင်းဝယ်ရေးနှင့်ထုတ်ကုန်သွင်းကုန်လုပ်ငန်း |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ်(၂၁၂)၊ အောက်လမ်းမကြီး၊ ရွှေတောင်ရပ်ကွက်၊ မော်လမြိုင်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါက၊ ဖက်စပ်ပြုလုပ်မည့်သူများ၏ –

| | |
|---|---|
| (က) အမည် | – |
| (ခ) အဘအမည် | – |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | – |
| (ဃ) နေရပ်လိပ်စာ | – |
| (င) လူမျိုး/ဘာသာ | – |
| (စ) အဖွဲ့အစည်းအမည် | – |
| (ဆ) လုပ်ငန်းအမျိုးအစား | – |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | – |

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား -

| | |
|---|---|
| (က) ကုန်ထုတ်လုပ်မှုလုပ်ငန်း | ငါးပုဇွန်၊ရေချိုနှင့် ပင်လယ်ထွက်ပစ္စည်းများ ဝယ်ယူထုတ်လုပ်ခြင်း |
| (ခ) ဝန်ဆောင်မှုလုပ်ငန်း | - |

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ -

| | |
|---|---|
| (က) နိုင်ငံသားနှင့်နိုင်ငံသားတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | လီမိတက်ကုမ္ပဏီ ( နောက်ဆက်တွဲဇယား - ၁ ) |
| (ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | - |
| (ဂ) အဖွဲ့အစည်းနှင့်အခြားအဖွဲ့အစည်းတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | - |

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်-

| | |
|---|---|
| (က) တစ်ဦးတည်းပိုင် | - |
| (ခ) အစုစပ်လုပ်ငန်း | - |
| (ဂ) လီမိတက်ကုမ္ပဏီ | မော်လမြိုင်ဟိုး(လ်)ဒင်း(စ်)လီမိတက် ( နောက်ဆက်တွဲဇယား - ၁ ) |
| (ဃ) သမဝါယမအသင်း | - |

၆။ အစုစပ်လုပ်ငန်းပုံသဏ္ဍာန်ဖွဲ့စည်းလိုပါက-

| | |
|---|---|
| (က) အစုဝင်တို့ကထည့်ဝင်မည့်အစုငွေအမျိုးအစားနှင့်ပမာဏ | - |
| (ခ) အကျိုးအမြတ်ခွဲဝေမည့်အချိုးအစား | - |
| (ဂ) အစုစပ်ဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ | - |

၇။ လီမိတက်ကုမ္ပဏီပုံသဏ္ဍာန်ဖွဲ့စည်းလိုပါက-

| | |
|---|---|
| (က) ခွင့်ပြုမတည်ငွေရင်း | ကျပ် ၃၀၀,၀၀၀,၀၀၀ (ကျပ်သန်းသုံးရာတိတိ) |
| (ခ) အစုရှယ်ယာအမျိုးအစား | တစ်စုလျှင်ကျပ်၁၀,၀၀၀(ကျပ်တစ်သောင်းတိတိ) တန်သာမန်အစုရှယ်ယာ ၃၀၀၀၀ ( သုံးသောင်း ) |
| (ဂ) အစုရှယ်ယာရှင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ | ကျပ် ၁၃,၈၈၀,၀၀၀ (ကျပ်တစ်ဆယ့်သုံးသန်းရှစ်သိန်းရှစ်သောင်းတိတိ) တစ်စုလျှင်ကျပ် ၁၀,၀၀၀ တန်အစုရှယ်ယာ ၁၃၈၈ ( တစ်ထောင်သုံးရာရှစ်ဆယ့်ရှစ်) |

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ -

(က) မတည်ငွေရင်းပမာဏ

| | ( ကျပ် ) |
|---|---|
| (၁) ငွေပမာဏ | ၉,၅၀၀,၀၀၀ |
| (၂) မြေ | - |
| (၃) အဆော ွအဦး( နောက်ဆက်တွဲဇယား ၂-က ) | ၃,၀၀၀,၀၀၀ |
| (၄) ကုန်ကြမ်းပစ္စည်းများ | - |
| ကိုယ်ပိုင်ထည့်ဝင်ရင်းနှီးငွေပမာဏ | ၁၂,၅၀၀,၀၀၀ |
| (၅) စက်ပစ္စည်းကရိယာများ( နောက်ဆက်တွဲဇယား ၃ ) ( သွင်းကုန်ပထမစနစ်ဖြင့်တင်သွင်းမည့်ပမာဏ ) | ၁,၃၈၀,၀၀၀ |
| စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ | ၁၃,၈၈၀ ၀၀၀ |

( ငွေသားထည့်ဝင်ရင်းနှီးမှုတန်ဘိုး ကျပ် ၉,၅၀၀,၀၀၀/- တွင် **Land Use Premium** ပေးချေရန် အတွက် ကျပ် ၂,၅၀၀,၀၀၀/- အပါအဝင်ဖြစ်ပါသည်။ )

(ဃ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့်

| | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကရိယာများ၏တန်ဖိုး ( နောက်ဆက်တွဲဇယား ၂-ခ ) | ၁,၃၈၀,၀၀၀ | ၂၃၀,၀၀၀ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့်အခြားအလားတူပစ္စည်း၏တန်ဖိုး | - | - |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ | - | - |
| | ၁,၃၈၀,၀၀၀ | ၂၃၀,၀၀၀ |

( စက်ပစ္စည်းများကို စင်္ကာပူနိုင်ငံ၊ **PL International Pte Ltd** မှ သွင်းကုန်ပထမစနစ်အရ အကြွေးဖြင့် ဝယ်ယူမည်ဖြစ်ပါသည်။ ၎င်းစက်ပစ္စည်းများအတွက် ကျသင့်သည့် နိုင်ငံခြားငွေများကို ငါး၊ ပုဇွန်များ ဖြင့် ပြန်လည်ပေးဆပ် သွားမည်ဖြစ်သည်။ )( နောက်ဆက်တွဲဇယား ၂-ဂ )

(ဂ) တည်ဆောက်မှုကာလ (၆)လ

(ဃ) ပမာဏစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ (၁)လ

(င) တည်ဆောက်မှုစတင်မည့်အချိန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့် ရရှိသည့်နေ့မှ စတင်ဆောင်ရွက်သွားမည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား ရေချိုရေငန်ငါး၊ ပုဇွန်များဝယ်ယူထုတ်လုပ်ခြင်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ သံလွင်ဈေး၊ သံလွင်ဥယျာဉ်လမ်း၊ မော်လမြိုင်မြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် ခေတ်မီထုတ်လုပ်မှုနည်းပညာ

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်–

| | |
|---|---|
| ၁။ ဒီဇယ်ဆီ | ဂါလံ ( ၆၀၀၀၀ ) |
| ၂။ ဓါတ်ဆီ | ဂါလံ ( ၁၀၀၀ ) |
| ၃။ စက်ဆီ၊ချောဆီ | ဂါလံ ( ၄၀၀ ) |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်–

| အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | ၁၄၄၀၀၀၀ ယူနစ် |
| ၂။ ဓါတ်ဆီ/ဒီဇယ်ဆီအင်ဂျင်စက်အင်အား | ၂၀၀ ကေဗွီအေ |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အင်အား | – |
| ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား | – |
| ၅။ ပေးပို့သည့်အခြားအား(ရေအား/လေအား စသည်များ) | – |

(စ) နှစ်စဉ်ရေလိုအပ်ချက်–

| | |
|---|---|
| ၁။ တစ်နေ့ရေလိုအပ်ချက် | ဂါလံ (၅၀၀၀၀) ငါးသောင်း |
| ၂။ တစ်နှစ်ရေလိုအပ်ချက် | ဂါလံ ( ၁၅ ) သန်း |

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက် — နောက်ဆက်တွဲဇယား – ၃

(ဇ) အဆောက်အဦးလိုအပ်ချက်

| | |
|---|---|
| (၁) ၂၈ပေ×၂၀ပေ | (၂) လုံး |
| (၂) ၂၉ပေ×၁၅ပေ | (၁) လုံး |
| (၃) ၄၀ပေ×၈ပေ | (၁) လုံး |
| (၄) ၃၀ပေ×၁၅ပေ | (၁) လုံး |
| (၅) ၃၀ပေ×၁၀ပေ | (၁) လုံး |
| (၆) ၂၀ပေ×၂၆ပေ | (၁) လုံး |

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်းလိုအပ်ချက် — မော်လမြိုင်မြို့နယ်စည်ပင်သာယာရေးအဖွဲ့ပိုင်မြေ / ၅၀ပေ×၁၀၅ပေ

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှု — နောက်ဆက်တွဲဇယား – ၄

(ဋ) ရောင်းချမည့်နည်းစနစ် — နိုင်ငံခြားငွေဖြင့်ရောင်းချမှု ၁၀၀ %

၁၀။ နှစ်စဉ်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ-

| | ခန့်မှန်းခြေ | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲဇယား - ၅ | |
| (ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ | နောက်ဆက်တွဲဇယား - ၃ | |
| (ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | နောက်ဆက်တွဲဇယား - ၄ | |
| (ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုး | နောက်ဆက်တွဲဇယား - ၄ | |
| (င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုး | နောက်ဆက်တွဲဇယား - ၄ | |

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင်လိုအပ်မည့်အမှုထမ်းများစာရင်း-

(က) ပြည်တွင်းမှလိုအပ်မည့်အမှုထမ်းများ- နောက်ဆက်တွဲဇယား ၆

(ခ) နိုင်ငံခြားမှလိုအပ်မည့်ကျွမ်းကျင်သူနှင့်အတတ်ပညာရှင်များ- စက်တပ်ဆင်ရန်နှင့်စမ်းသပ်လည်ပတ်ရန်ပညာရှင်(၁)ဦးအား (၃)လ ငှားရမ်းမည်။

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ-

| | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|
| (က) နှစ်စဉ်ဝင်ငွေရှိမှု | နောက်ဆက်တွဲဇယား ၇ | |
| (ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲဇယား ၇ | |
| (ဂ) နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲဇယား ၇ | |
| (ဃ) နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲဇယား ၈ | |
| (င) အရင်းကြေကာလ | နောက်ဆက်တွဲဇယား ၅ | |
| (စ) အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲဇယား ၉ | |
| (ဆ) အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ | (၇၀) ဦး | |

၁၃။ ဆောင်ရွက်ရန်အဆိုပြုချက်နှင့်စပ်လျဉ်းသည့်အထောက်အထားများ–

အဆိုပြုတင်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါအထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း၊

(ခ) လုပ်ငန်းပိုင်နှင့်ငွေရေးကြေးရေးဆိုင်ရာအထောက်အထာများ၊

(ဂ) သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းမူကြမ်းများ၊

(ဃ) လက်ရှိဖွဲ့စည်းပြီးအဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လက်မှတ်၊ -----------------

အမည်၊ ဦးအေးဇော်ဝင်း

ရာထူး၊ ဒါရိုက်တာ

မော်လမြိုင်ဟိုး(လ်)ဒင်း(စ်)လီမိတက်

PROPOSAL FORM (1) RE-ITEM 4( a ), 5(c)

LIST OF EXECUTIVES

*Exhibit No. I*

| Sr. No. | Name | Citizenship & N.R.C No. Passport No. | Designation | Address | Amount of Capital | Percentage |
|---|---|---|---|---|---|---|
| 1 | On behalf of<br>**Mawlamyaing Holdings Limited** | | | | Kyats ( 13.88 ) Million | 100% |
| | U Aye Zaw Win | Myanmar<br>U/RGN 001588 | Director | No. (19), May Kha Street,<br>Mayangone Township,<br>Yangon, Union of Myanmar. | | |
| | | | | TOTAL CAPITAL | Kyats ( 13.88 ) Million | 100% |

| PROPOSAL FORM (1) RE-ITEM 8 A(4)<br>VALUE OF FACTORY BUILDINGS<br>Exhibit No. II(A) | | |
|---|---|---|
| Sr No | DESCRIPTION | DIMEN-SION |
| 1 | Building for Cold Storage I | 28'x20' |
| 2 | Building for Cold Storage II | 28'x20' |
| 3 | Machine Room | 29'x15' |
| 4 | Ante Room | 8'x40' |
| 5 | Office | 30'x15' |
| 6 | Rest Room | 30'x10' |
| 7 | Receiving Room | 20'x26' |
| | **TOTAL VALUE FOR BUILDINGS** | Kyats 3,000,000 |

( Total value for Factory Buildings is Kyat 3,000,000 ( Kyats Three Million only )

| | PROPOSAL FORM (1) RE-ITEM 8 A(2), 8 B(1)<br>LIST OF MACHINERIES AND EQUIPMENT ETC | Exhibit No. II(B)<br>Sheet - 1 | |
|---|---|---|---|
| Sr No | PARTICULARS | QTY | VALUE IN US$ |
| | **1 LOT REFRIGERATION & ELECTRICAL EQUIPMENT COLD STORAGE**<br>1 Set - 1000 Kg/3Hrs Contact Freezer @ -35 CET<br>2 Sets - Coldstorage Room 60 Ton @ -25Deg. C Room Temp.<br>1 Set - Ante Room 40Ft x 8 Ft x13 Ft H<br>1 Set - Air Blast Freezer 1 Ton / 5 Hours Approximately | | |
| 1 | HAISAN' Galvanized Iron Contact Freezer Cabinet with 2 Leaf Door on both sides c/w Hydraulic Jacks, Powerpack & Controls for Operation with Flooded Ammonia System. | 1 Set | 33,405 |
| 2 | MYCOM' 2 Stage Ammonia Internally Compounded Compressor for Contact Freezer c/w 75HP Motor and Accessories as follows:-<br>-Water cooled oil cooler<br>-Preesure Switches<br>-Preesure Guage<br>-Common Base Frame<br>-Unloading Solenoid Value<br>-Discharge Safety Value<br>-Pulley, Bett, Belt Guard | 1 Set | 18,513 |
| 3 | Grasso' Model RC 219 Two Stage Compressor for Refrigerant Ammonia R 717 for Coldstorage Room; Of All-Welded And Stress-Relieved Body Construction with three Cylinders (Two Lo & One Hi ) Arranged in V-Form; with Crank Shaft on Two Bearings, Remoable Cylinders Liners, Automatic Unloader at Start on all Cylinders, Water Cooled and Spring Loaded Cylinder Heads, Forced Dual Lubrication System. | 2 Sets | 24,000 |
| 4 | Oil Separator c/w Manual Oil Return. | 2 Sets | 1600 |
| 5 | Intercooler Closed Type c/w Subcooler Coil. | 1 Set | 3,300 |
| 6 | Evaporative Condenser of Capacity 45RT C/W 7.5HP Fan & 3HP Water Pump. | 1 Set | 16,000 |
| 7 | Liquid Receiver 660 mm x 2900 mm(New) | 1 Set | 4,000 |
| 8 | Suction Accumulator c/w controls for Contact Freezer Pre-Insulator. | 1 Set | 2,466 |

| PROPOSAL FORM (1) RE-ITEM 8 A(2), 8 B(1)<br>LIST OF MACHINERIES AND EQUIPMENT ETC. | | Exhibit No. II(B)<br>Sheet - 2 | |
|---|---|---|---|
| Sr No | PARTICULARS | UNIT | VALUE IN US$ |
| 9 | 2x60 Tons Capacity Prefabricated insulated Panel Coldroom of External Dimensions 40 Ft x 30 Ft x 13 Ft H with Polyurethane insulation of 125mm Thickness c/w insulated Swing Door, Door Heater, Pressure Relief Ports Coldroom Lamps, PVC Strip Curtain etc. ( New ) | 1 Set | 31,500 |
| 10 | 40 Ft x 8 Ft x 13 Ft H Ante Room Prefabricated Panel Of 100 mm Thickness c/w One Unit Swing Door And One Unit Sllding Door, Coldroom Lamps, PVC Strip Curtain etc (New). | 1 Set | 4,500 |
| 11 | ATLAS' Celling Mounted Ammonia Unit Cooler For Flooded Operation c/w Pre-Insulated Accumulator, Manual Water Defrost And Accessories. | 2 Units | 9,000 |
| 12 | HAISAN' Floor Mounted Unit Cooler For Air Blast Freezer c/w Manual Water Defrost And Accessories. | 1 Unit | 6,700 |
| 13 | HAISAN' Pre-Insulated Accumulator For Air Blast Freezer c/w Controls & Accessories (New). | 1 Unit | 2,050 |
| 14 | HAISAN' Prefabricated Insulation Panel of External Dimension 10 Ft x 12Ft x 10 Ft, With Polyurethane Insulation of 150 mm Thickness c/w Insulated Swing Door, Door Heater, Pressure Rellef Ports, PVC Strip Curtain etc (New) | 1 Unit | 10,500 |
| 15 | CALPEDA Defrost Water Pump | 1 Unit | 350 |
| 16 | CALPEDA Water Pump For Compressor Head Cooling | 1 Unit | 350 |
| 17 | Valves, Accessories And Automatic Controls For the Ammonia And Water Piping System Of The Complete Plant, Consisting Of Stop Valves, Hand Regulators, Solenoid Valves, Float Switches, Expansion Valves, etc For A Semi-Automatic Operation Of The Plant ( New). | 1 Lot | 8500 |
| 18 | Electrical Starter And Control Panel For Control Of All Equipment Offered including MCCB (New). | 1 Unit | 11900 |

PROPOSAL FORM (1) RE-ITEM 8 A(2), 8 B(1)
LIST OF MACHINERIES AND EQUIPMENT ETC

**Exhibit No. II(B)**
Sheet - 3

| Sr No | PARTICULARS | UNIT | VALUE IN US$ |
|---|---|---|---|
| 19 | Installation Material, Seamiess API Schedule 40 Black Steel Tubes And Fittings For Refrigerant Lines & Galvanized Steel Pipes, PVC Pipes & Fittings For Water Lines As Required For The Complete Intercoonection Of All Above Offered Equipment Including Electric Wires, Condults, Fittings And Insulators For The Power Installation Of The Project, Insulation On Cold Pipes And Vessels, Excluding Ammonia Refrigerant And Compressor Lubrication Oil (New). | 1 Lot | 8950 |
| 20 | HAISAN Incoming Main Power Panel c/w Manual Changeover Switch For Operation With Your 200 KVA Standby Generator. | 1 Set | 4850 |
| 21 | Ocean Freight & Insurance | | 27566 |
| | **GRAND TOTAL** | | 230,000 |

Total Value for Machineries and Equipment is US$ 230000 ( US Dollar Two Hundred Thirty Thousand only )

နောက်ဆက်တွဲဇယားအမှတ် ၂(ဂ)

## သွင်းကုန်ပထမစနစ်အရဝယ်ယူတင်သွင်းလာသော စက်ပစ္စည်းများအားပြန်လည်ပေးဆပ်မည့်အစီအစဉ်

| | | |
|---|---|---|
| ၁။ | ဝယ်ယူတင်သွင်းမည့်နိုင်ငံ | - စင်္ကာပူနိုင်ငံ ၊ PL International Pte Ltd |
| ၂။ | ဝယ်ယူတင်သွင်းမည့်စနစ် | - သွင်းကုန်ပထမစနစ်အရ (အတိုးမဲ့ဖြင့်) |
| ၃။ | ဝယ်ယူတင်သွင်းမည့်စက်တန်ဘိုး | - မြန်မာကျပ်ငွေ ၁.၃၈ သန်းနှင့်ညီမျှသော အမေရိကန်ဒေါ်လာ (၂၃၀,၀၀၀ ) |
| ၄။ | ပြန်လည်ပေးဆပ်ရမည့်အချိန်ကာလ | - စက်စတင်လည်ပတ်ချိန်မှ (၂) နှစ်ကာလအတွင်း |
| ၅။ | ပြန်လည်ပေးဆပ်ရမည့်အစီအစဉ် | - တစ်နှစ်လျှင်အမေရိကန်ဒေါ်လာ( ၁၁၅,၀၀၀ ) နှင့် ညီမျှသော ထုတ်လုပ်ရရှိလာသည့် ငါးပုဇွန် တန်ဘိုးဖြင့်ပြန်လည်ခုနှိမ်သွားမည်ဖြစ်ပါသည်။<br>- ခန့်မှန်းခြေအားဖြင့် ပုဇွန် ( ၁၅ )တန် (သို့မဟုတ်) ငါးအသားလွှာ (၃၀)တန် (သို့မဟုတ်) ငါး (၄၈) တန် နှင့်ညီမျှသော ထွက်ကုန်ပမာဏ ဖြင့်ပေးဆပ်သွားမည်ဖြစ်သည်။ |

## PROPOSAL FORM (1) RE-ITEM 9(g)

**ANNUAL RAW MATERIALS REQUIREMENT** **Exhibit No. III**

| PARTICULARS | UNIT | YEAR | | | | |
|---|---|---|---|---|---|---|
| | | 1 | 2 | 3 | 4 | 5 - 15 |
| **LOCAL RAW MATERIALS (QTY)** | | | | | | |
| **FOR COLD STORE** | | | | | | |
| Diesel Oil | gl(000) | 60 | 60 | 60 | 60 | 60 |
| Ammonia | Bot | 50 | 50 | 50 | 50 | 50 |
| Shrimp & Prawn | MT | 1800 | 1800 | 1800 | 1800 | 1800 |
| Fish 1st Grade | MT | 1000 | 1000 | 1000 | 1000 | 1000 |
| Fish 2nd Grade | MT | 700 | 700 | 700 | 700 | 700 |
| **LOCAL RAW MATERIALS (PRICE)** | | | | | | |
| **FOR COLD STORE** | | | | | | |
| Diesel Oil | Ks/gl | 140 | 150 | 160 | 170 | 180 |
| Ammonia | Ks/Bot | 8100 | 8200 | 8300 | 8400 | 8500 |
| Shrimp & Prawn | K000/MT | 500 | 510 | 520 | 530 | 540 |
| Fish 1st Grade | K000/MT | 120 | 125 | 130 | 135 | 140 |
| Fish 2nd Grade | K000/MT | 40 | 41 | 42 | 43 | 44 |
| **LOCAL RAW MATERIALS (VALUE)** | | | | | | |
| **FOR COLD STORE** | | | | | | |
| Diesel Oil | Ks 000 | 8400 | 9000 | 9600 | 10200 | 10800 |
| Ammonia | Ks 000 | 405 | 410 | 415 | 420 | 425 |
| Shrimp & Prawn | Ks 000 | 900000 | 918000 | 936000 | 954000 | 972000 |
| Fish 1st Grade | Ks 000 | 120000 | 125000 | 130000 | 135000 | 140000 |
| Fish 2nd Grade | Ks 000 | 28000 | 28700 | 29400 | 30100 | 30800 |
| **TOTAL IN KYATS** | Ks 000 | 1056805 | 1081110 | 1105415 | 1129720 | 1154025 |

## PROPOSAL FORM (1) RE-ITEM 9 (j), 10(c)(d)(e)
## GOODS TO BE PRODUCED

**1.0 PRODUCTS** **Exhibit No. IV**

| PARTICULARS | UNIT | Maximum Capacity 300 days/Year | | | | |
|---|---|---|---|---|---|---|
| | | YEAR | | | | |
| | | 1 | 2 | 3 | 4 | 5-15 |
| **Production** | | | | | | |
| Shrimp & Prawn | MT/Year | 1000 | 1000 | 1000 | 1000 | 1000 |
| Fish - Fillet | MT/Year | 300 | 300 | 300 | 300 | 300 |
| Whole Fish | MT/Year | 700 | 700 | 700 | 700 | 700 |
| **Export Sale(Quantity)** | | | | | | |
| Shrimp & Prawn | MT/Year | 1000 | 1000 | 1000 | 1000 | 1000 |
| Fish - Fillet | MT/Year | 300 | 300 | 300 | 300 | 300 |
| Whole Fish | MT/Year | 700 | 700 | 700 | 700 | 700 |
| **Export Sale(Price)** | | | | | | |
| Shrimp & Prawn | US$/MT | 8000 | 8100 | 8200 | 8300 | 8400 |
| Fish - Fillet | US$/MT | 4000 | 4100 | 4200 | 4300 | 4400 |
| Whole Fish | US$/MT | 2500 | 2600 | 2700 | 2800 | 2900 |
| **Export Sale(Value)** | | | | | | |
| Shrimp & Prawn | US$ 000 | 8000 | 8100 | 8200 | 8300 | 8400 |
| Fish - Fillet | US$ 000 | 1200 | 1230 | 1260 | 1290 | 1320 |
| Whole Fish | US$ 000 | 1750 | 1820 | 1890 | 1960 | 2030 |
| **Sale in US Dollar** | US$ 000 | 10950 | 11150 | 11350 | 11550 | 11750 |
| **Equivalent in Kyats** | Ks 000 | 65700 | 66900 | 68100 | 69300 | 70500 |

## PROPOSAL FORM (1) RE-ITEM 10 (a), 12(e)
## CASH FLOW STATEMENT

**Exhibit No V**
**(Kyat in thousand)**

| Sr.No | | Particulars | Year 1 | Year 2 | Year 3 | Year 4 | Year 5-15 |
|---|---|---|---|---|---|---|---|
| 1 | | 2 | 3 | 4 | 5 | 6 | 7 |
| 1 | | CASH IN FLOW | | | | | |
| | 1 | Profit in US$ after Tax | 163 | 213 | 313 | 413 | 513 |
| | 2 | Equivalent in Kyat | 978 | 1278 | 1878 | 2478 | 3078 |
| | 3 | Profit in Kyat after Tax | -243165 | -199540 | -85915 | 27710 | 141335 |
| | 4 | Depreciation | 292 | 292 | 292 | 292 | 292 |
| | | | -241895 | -197970 | -83745 | 30480 | 144705 |
| 2 | | CASH OUT FLOW | | | | | |
| | 1 | Factory Buildings | 3000 | | | | |
| | 2 | Machineries & Equipments | 1380 | | | | |
| | 3 | Working Capital | 7000 | | | | |
| | 4 | Land Use Premium | 2500 | | | | |
| | 5 | Raw Materials | - | | | | |
| | 6 | Repayment for Machineries | 690 | 690 | | | |
| | | | 14570 | 690 | - | - | - |
| 3 | | Net Cash Flow | -256465 | -197970 | -83745 | 30480 | 144705 |
| 4 | | Opening Balance | - | -256465 | -454435 | -538180 | -507700 |
| 5 | | Closing Balance | -256465 | -454435 | -538180 | -507700 | -362995 |

| | Kyats | Periods |
|---|---|---|
| Year 1 to 5 | -362995 | 5 Years |
| Year 6 to 7 ( US$ 144705 x 2 Years ) | 289410 | 2 Years |
| Year 8 = 73585/144705*12 months | 73585 | 6 Months |
| | 0 | 7 Years and 6 month. |

Note: :(1)Pay back period is 7 years and 6 month.
(2) Income from import sale is calculated estimatedly on the FE earning from Export by import of cement in the rate of US$ 80/ton for 117500 Tons.

